ကုမ္ပဏီအမည် - ဂရိတ်ဟော်ခမ်းအများပိုင် ကုမ္ပဏီလီမိတက်

လုပ်ငန်း - B.O.T စနစ်ဖြင့် (၂၀) မဂ္ဂါဝပ် နမ့်ပေါ် ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ် ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၅-၁၂-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း | | | |
| | (က) ရှမ်းပြည်နယ် အစိုးရအဖွဲ့ | ၁၆-၁၂-၂၀၁၆ | ၂၀-၁-၂၀၁၇ | ၃၅ ရက် |
| | (ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန | ESIA အစီရင်ခံစာအား Myanmar Sustainable Development Engineering Services Co., Ltd. မှ ရေးဆွဲတင်ပြ ထားပြီး EIA အစီရင်ခံစာနှင့်စပ်လျဉ်းသည့် Scoping report အားပေးပို့တင်ပြ ထားပြီးဖြစ်ပါသည်။ | | |
| | (ဂ) ဆောက်လုပ်ရေးဝန်ကြီးဌာန | ၁၆-၁၂-၂၀၁၆ | ၁၀-၁-၂၀၁၇ | ၂၅ ရက် |
| | (ဃ) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန | ၁၆-၁၂-၂၀၁၆ | ၂၆-၁၂-၂၀၁၆ | ၁၀ ရက် |
| ၃ | PAT (၄၆/၂၀၁၆) သို့ တင်ပြခြင်း | ၁၂-၁၂-၂၀၁၆ | | |
| ၄ | ကုမ္ပဏီမှ လိုအပ်ချက်နှင့်အညီ ပြင်ဆင်တင်ပြလာခြင်း | ၂၁-၂-၂၀၁၇ | | |
| ၅ | လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ လုပ်ငန်း ဆောင်ရွက်ခွင့်အတွက် တင်ပြ လာခြင်း | ၂၈-၃-၂၀၁၇ | | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာ ပေးပို့ခြင်း | ၂၀-၄-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၅၆ ရက်** | | |

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၄
PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန် လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | အလံ အမှတ် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | ဂရိတ် ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက် | B.O.T စနစ်ဖြင့် (၂၀) မဂ္ဂါဝပ် နမ့်ပေါ်ရေအား လျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ် ဓာတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း | (၄၆/၂၀၁၆) (၂၄-၁၂-၂၀၁၆) | - ရင်းနှီးမြှုပ်နှံမှုပုံစံ ပြန်လည် စိစစ် တင်ပြရန်။ | ဆောင်ရွက် ပြီး | အလံ(က) |
| | | | | - တင်သွင်းမည့် စက်ပစ္စည်းများကို ပြည်တွင်းဝယ်၊ ပြည်ပဝယ် ခွဲခြား ဖော်ပြပေးရန်။ | ဆောင်ရွက် ပြီး | အလံ(ခ) |
| | | | | - ချေးငွေစာချုပ်(မူကြမ်း) တင်ပြပေးရန်။ | ဆောင်ရွက် ပြီး | အလံ(ဂ) |

ကုမ္ပဏီ အမည် - ဂရိတ်ဟော်ခမ်းအများပိုင် ကုမ္ပဏီလီမိတက်
အဖွဲ့အစည်းပုံသဏ္ဍာန် - မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း
လုပ်ငန်းအမျိုးအစား - B.O.T စနစ်ဖြင့် (၂၀) မဂ္ဂါဝပ် နမ့်ပေါ်ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း
တည်နေရာ - ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ စယ်လန့်ကျေးရွာနှင့် မန့်မိုင်ကျေးရွာ အုပ်စုရှိ နမ့်ပေါ်ချောင်းပေါ်နှင့် မြေ ၁၇၉.၀၀ ဧက
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၄၈,၃၇၈.၄၂ သန်း(အမေရိကန်ဒေါ်လာ ၁၄.၃၁ သန်းအပါအဝင်)
ဝန်ဆောင်မှုပေးမည့်စနစ် - ပြည်တွင်း ၁၀၀%
လုပ်ငန်းသက်တမ်း - ၅၀ နှစ်
အရင်းကြေ ကာလ - ၁၆ နှစ် ၄ လ
IRR - ၁၂.၆၅ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၀.၆၇ သန်း |
| ၃ | သွင်းကုန်ခွန် ကင်းလွတ်ခွင့် | ကျပ် ၄၇၆.၂၃၈ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၇၅၀.၀၀၀ သန်း | ကျပ် ၂,၃၁၃.၂၁ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၂,၅၄၈.၇၀ သန်း |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | ကျပ် ၂.၂၅ သန်း<br>တစ်နှစ် ဝင်ငွေ ကျပ် ၄.၈ သန်း (ကျပ် လေးဆယ့်ရှစ်သိန်း) ကျော်ပါက အခွန်ပေးရမည့် ပြည်တွင်းဝန်ထမ်း ၄ ဦး |
| ၈ | CSR (၁%) | | ကျပ် ၉၈.၃၁ သန်း |
| ၉ | အလုပ်အကိုင် အခွင့်အလမ်း | | အမြဲတမ်း ပြည်တွင်း ၂၈ ဦး<br>ပြည်တွင်းလုပ်သား ၂၈ဦးအလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုး တက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၁,၂၂၉.၂၄သန်း** | **ကျပ် ၄,၉၆၃.၁၄ သန်း** |
| | | **၁ း ၄** | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီလီမိတက်မှ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့တွင် B.O.T စနစ်ဖြင့် (၂၀)မဂ္ဂါဝပ် နမ့်ပေါ်ရေအား လျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - **ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်**<br>Great Haw Kham Public Company Limited<br>ဦးစိုင်းအုန်းမြင့်(အဘ-ဦးမိုင်ဆွမ်း) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ (Public Company ဖြစ်ပါသည်) |
| ၃။ | လုပ်ငန်းအမျိုးအစား | - ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့တွင် B.O.T စနစ်ဖြင့် (၂၀) မဂ္ဂါဝပ် နမ့်ပေါ်ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း |
| ၄။ | တည်နေရာနှင့် မြေအကျယ်အဝန်း | - ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ မန့်မိုင်စယ်လန့်ကျေးရွာအုပ်စုရှိ မြေဧရိယာ ၁၇၉.၀၀ ဧက |
| | မြေပိုင်ရှင် | - ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက် |
| ၅။ | စုစုပေါင်းမ,တည်ငွေရင်း | - ကျပ် ၄၈,၃၇၈.၄၂ သန်း (အမေရိကန် ဒေါ်လာ ၁၄.၃၀၈ သန်း အပါအဝင်) |

| | **ကျပ် (သန်း)** | **US$ (သန်း)** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|---|---|
| ငွေသား | ၃,၉၀၅.၂၁၀ | ၁.၂၇၇ | ၅,၄၆၀.၅၉၆ |
| စက်ပစ္စည်း (ပြည်ပဝယ်) (Electro-mechanical Equipment and Installation works and 66kV Transmission Line & Muse Substation expanding works) | | ၁၃.၀၃၁ | ၁၅,၈၇၁.၇၅၈ |
| စက်ပစ္စည်း (ပြည်တွင်းဝယ်) (Construction Auxiliary Work, Construction Project, Environment protection, soil and Water Conservative Works) | ၂၁,၇၃၈.၈၆၀ | | ၂၁,၇၃၈.၈၆၀ |
| မြေနှင့်အဆောက်အဦ | ၃,၃၀၉.၆၇၀ | | ၃,၃၀၉.၆၇၀ |
| အခြား | ၁,၉၉၇.၅၃၀ | | ၁,၉၉၇.၅၃၀ |
| **စုစုပေါင်း** | **၃၀,၉၅၁.၂၇၀** | **၁၄.၃၀၈** | **၄၈,၃၇၈.၄၁၄** |

ပြည်ပချေးငွေ အမေရိကန်ဒေါ်လာ ၁၄.၃၀၈ သန်း အား တစ်နှစ်လျှင် အတိုးနှုန်း ၄.၅% ဖြင့် ၁၀ နှစ် အတွင်း ပေးဆပ်မည်ဖြစ်ပြီး ပြည်တွင်းချေးငွေ ကျပ် ၁၆,၇၈၅.၇၇သန်းအား တစ်နှစ်လျှင် အတိုးနှုန်း ၁၃% ဖြင့် ၁၀ နှစ် အတွင်း ပေးဆပ် မည်ဖြစ်ကြောင်း တင်ပြထား ပါ သည်။

| | | | |
|---|---|---|---|
| ၆။ | ဝင်ငွေရရှိမှုအခြေအနေ (၆နှစ်မြောက်) | ထုတ်လုပ်မည့် လျှပ်စစ်ဓာတ်အား (KWh/year) | ဈေးနှုန်း (ကျပ်/KWh) |
| | | ၈၃,၃၀၀,၀၀၀ | ၆၅.၀၀ |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% |
| ၈။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် |
| ၉။ | တည်ဆောက်ရေးကာလ | - ၃ နှစ် |
| ၁၀။ | ဝန်ထမ်းအင်အား(ပထမနှစ်) | -၂၈ဦး(ပြည်တွင်း) အမြင့်ဆုံးလစာ ၁,၀၀၀,၀၀၀ ကျပ် နှင့်<br>အနိမ့်ဆုံးလစာ ၃၅၀,၀၀၀ ကျပ်<br>- ၃ ဦး (ပြည်ပ) အမြင့်ဆုံးလစာ US$ ၂,၆၀၀ |
| ၁၁။ | ကုမ္ပဏီ၏ (၆)နှစ်မြောက် | |
| | ဝင်ငွေ | - ကျပ် ၅,၂၀၁.၃၁ သန်း |
| | အသုံးစရိတ် | - ကျပ် ၄,၅၄၅.၇၀ သန်း |
| | အသားတင်အမြတ် | - ကျပ် ၆၅၅.၆၁ သန်း |
| ၁၂။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်<br>(၆)နှစ်မြောက် | |
| | ဝင်ငွေခွန် | - ကျပ် ၂၂၀.၇၄ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၂၆၀.၀၇ သန်း |
| ၁၃။ | အရင်းကြေကာလ | - ၁၆ နှစ် ၄ လ |
| | အရင်းအနှီးအပေါ် အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - ၁၂.၆၅ % |
| ၁၄။ | လျှပ်စစ်ဓာတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၂.၆ ကီလိုဝပ်နာရီသန်းပေါင်း |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက- ၅(လ)/မ-၀၀၂/၂၀၁၇(၁၇၁ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဧပြီလ ၂၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဂရိတ်ဟော်ခမ်းအများပိုင် ကုမ္ပဏီလီမိတက်မှ B.O.T စနစ်ဖြင့် (၂၀) မဂ္ဂါဝပ် နမ့်ပေါ်ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ် ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဂရိတ်ဟော်ခမ်းအများပိုင် ကုမ္ပဏီလီမိတက်မှ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ စယ်လန့်ကျေးရွာနှင့် မန့်မိုင်ကျေးရွာအုပ်စုရှိ မြေ ၁၇၉.၀၀ ဧကတွင် B.O.T စနစ်ဖြင့် (၂၀) မဂ္ဂါဝပ် နမ့်ပေါ်ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ် ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရှမ်းပြည်နယ် အစိုးအဖွဲ့၊ လျှပ်စစ်နှင့် စက်မှုလက်မှုဝန်ကြီးဌာနနှင့် ဂရိတ်ဟော်ခမ်းအများပိုင် ကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုသော ရှမ်းပြည်နယ် (မြောက်ပိုင်း) မူဆယ်မြို့၊ နမ့်ပေါ်ချောင်းပေါ်ရှိ ရေအားလျှပ်စစ် ထုတ်လုပ်ခြင်းစီမံကိန်း ဖွံ့ဖြိုးတိုးတက်မှုဆိုင်ရာ နားလည်မှုစာချွန်လွှာ(MOU) အား၂၀၁၄ ခုနှစ် အောက်တိုဘာလ ၇ ရက် နေ့တွင် လက်မှတ် ရေးထိုးခဲ့ပြီးဖြစ်ပါသည်။ ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်နှင့် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန (ယခင် လျှပ်စစ်စွမ်းအားဝန်ကြီးဌာန) လျှပ်စစ် စွမ်းအားစီမံရေးဦးစီးဌာနတို့ နမ့်ပေါ်ရေအား လျှပ်စစ် စီမံကိန်းအား Build၊ Operate၊ Transfer (B.O.T) စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန် အတွက် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုထားသည့် ပဋိညာဉ် စာချုပ် (MOA) အား ၂၀၁၆ခုနှစ် မတ်လ ၁၆ ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့ပြီး ဖြစ်ပါသည်။

၃။ အဆိုပြုချက်နှင့်အတူ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်းနှင့် ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်တို့အကြား နမ့်ပေါ်ရေအား လျှပ်စစ်ဓာတ်အား ပေးစက်ရုံ လျှပ်စစ်ဓာတ်အားဝယ်ယူရေး သဘောတူစာချုပ်(မူကြမ်း)အား ပူးတွဲတင်ပြထားပါသည်။ အဆိုပါ စာချုပ် (မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်သည် နှစ်စဉ် ဒီဇင်ဘာလ ၃၁ ရက်နေ့ မတိုင်မီ (သို့မဟုတ်) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေး လုပ်ငန်းမှ ကြိုတင် တောင်း

ဆိုသည့် အချိန် တွင် နောက်နှစ်အတွက် ဓာတ်အားထုတ်လုပ်မည့် အစီအစဉ် ကို လျှပ်စစ် ဓာတ်အား ထုတ်လုပ်ရေး လုပ်ငန်းသို့ ပေးပို့ရမည်။

နှစ်စဉ်ထုတ်လုပ်ရန် စီမံလျာထားသော စာချုပ်ထားသည့် လျှပ်စစ်စွမ်းအား = ၈၅.၃၉ ကီလိုဝပ်နာရီသန်းပေါင်း (စာချုပ်အပိုဒ်-၆-၁)

(ခ) လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းနှင့် ဂရိတ် ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက်တို့သည် ခင်မင်ရင်းနှီးစွာ အကျေ အလည် စေ့စပ်ညှိနှိုင်းဆွေးနွေးပြီးနောက် တစ်ယူနစ်လျှင် ၆၅/- (ခြောက်ဆယ့်ငါးကျပ်) နှုန်းဖြင့် လျှပ်စစ် ဓာတ်အားထုတ်လုပ်ရေး လုပ်ငန်းသို့ ရောင်းချရမည်ဖြစ်ပြီး စာချုပ်ဝင်နှစ်ဖက်က ဤသဘောတူစာချုပ်၌ အသီးသီးဖော်ပြထားသော ဘဏ်များမှတစ်ဆင့် စာရင်းပြောင်းနည်းဖြင့် ပေးချေရမည်ဖြစ်ပါသည်။ နှစ်စဉ်ဓာတ်အားခများ ပြင်ဆင်သတ်မှတ်ရေးကို ညှိနှိုင်းဆောင်ရွက်ရန် နှစ်ဦးနှစ်ဖက်သဘောတူညီကြပါသည်။ (စာချုပ်အပိုဒ်-၇-၁)

(ဂ) ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှမည်သို့ပင်ဖြစ်စေ၊ နမ့်ပေါ်ရေအား လျှပ်စစ်ဓာတ်အားပေးစက်ရုံ၏ ပထမဆုံး ဓာတ်အားပေးစက်မှစီးပွားဖြစ်စတင် ဓာတ်အား ထုတ်လုပ်ရောင်းချနိုင်သောနေ့မှ စတင်အာဏာသက်ရောက်မှုရှိစေရမည် ဖြစ်ပြီး၊ ဤသဘောတူစာချုပ်၏ သက်တမ်းသည် ထိုနေ့မှစတင်ရေတွက်လျှင်နှစ်ပေါင်း ၅၀ (ငါးဆယ်) ပြည့် မြောက်သည့်နေ့အထိ ဖြစ်ရမည်။ (စာချုပ်အပိုဒ်-၁၅-၁)

(ဃ) ဤသဘောတူစာချုပ်၏ သက်တမ်းကုန်ဆုံးမည့်အချိန်တွင် ဤဓာတ်အားပေးစက်ရုံ ကို ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီ လီမိတက်က ဆက်လက်လုပ်ကိုင်လိုပါက၊ ၂၀၁၆ ခုနှစ် မတ်လ ၁၆ ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့သော ပဋိညာဉ်စာချုပ်ပါအတိုင်း ဤသဘောတူစာချုပ်၏ သက်တမ်းမကုန်ဆုံးမီ ၆လ (ခြောက်လ) ကြိုတင်၍ စာချုပ်ဝင်များသည် နှစ်ဖက်ညှိနှိုင်းကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ တစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ဖြင့် တစ်ဆက်တည်း သက်တမ်းတိုးခွင့် (၁၀)နှစ် နှစ်ကြိမ်၊ ဤသဘောတူစာချုပ်ကို သက်တမ်းတိုးမြှင့်နိုင်သည်။ (စာချုပ်အပိုဒ်-၁၅-၂)

၄။ လုပ်ငန်းစီမံကိန်း သက်တမ်းကာလမှာ ၅၀ နှစ်ဖြစ်ပြီး တည်ဆောက်မှုကာလမှာ ၃၆ လ ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်း ပမာဏမှာ ချေးငွေ အမေရိကန်ဒေါ်လာ ၁၄.၃၀၈ သန်း အပါအဝင် ကျပ် ၄၈,၃၇၈.၄၂ သန်းဖြစ်ပြီး ပြည်ပချေးငွေ အမေရိကန်ဒေါ်လာ ၁၄.၃၀၈ သန်းအား တစ်နှစ်လျှင် အတိုးနှုန်း ၄.၅% ဖြင့် ၁၀ နှစ် အတွင်း ပေးဆပ်မည်ဖြစ်ပြီး ပြည်တွင်းချေးငွေ ကျပ် ၁၆၇၈၅.၇၇သန်းအား တစ်နှစ်လျှင် အတိုးနှုန်း ၁၃% ဖြင့် ၁၀ နှစ် အတွင်း ပေးဆပ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ရင်းနှီး မြှုပ်နှံမှုပုံစံမှာ တစ်ဘက်ပါအတိုင်း ဖြစ်ပါသည်-

| | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| ငွေသား | ၃,၉၀၅.၂၁၀ | ၁.၂၇၇ | ၅,၄၆၀.၅၉၆ |
| စက်ပစ္စည်း (ပြည်ပဝယ်) (Electro-mechanical Equipment and Installation works and 66kV Transmission Line & Muse Substation expanding works) | | ၁၃.၀၃၁ | ၁၅,၈၇၁.၇၅၈ |
| စက်ပစ္စည်း (ပြည်တွင်းဝယ်) (Construction Auxiliary Work, Construction Project, Environment protection, soil and Water Conservative Works) | ၂၁,၇၃၈.၈၆၀ | | ၂၁,၇၃၈.၈၆၀ |
| မြေနှင့်အဆောက်အဦ | ၃,၃၀၉.၆၇၀ | | ၃,၃၀၉.၆၇၀ |
| အခြား | ၁,၉၉၇.၅၃၀ | | ၁,၉၉၇.၅၃၀ |
| **စုစုပေါင်း** | **၃၀,၉၅၁.၂၇၀** | **၁၄.၃၀၈** | **၄၈,၃၇၈.၄၁၄** |

၆။ လုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်းဝန်ထမ်း ၂၈ ဦးနှင့် ပြည်ပဝန်ထမ်း ၃ ဦးခန့်ထား မည်ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံး လစာမှာ ကျပ် ၁,၀၀၀,၀၀၀ နှင့် အနိမ့်ဆုံး လစာမှာ ကျပ် ၃၅၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ US$ ၂,၆၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သော လျှပ်စစ်ဓါတ်အားကို ဌာနသို့ ၁၀၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုမှာ ပုံမှန်နှစ် (၆) နှစ်မြောက်တွင် ကီလိုဝပ်နာရီသန်းပေါင်း ၈၃.၃ သန်းခန့်ဖြစ်ပြီး ရောင်း ချမည့်စျေးနှုန်းမှာ တစ်ကီလိုဝပ်နာရီလျှင် ၆၅ ကျပ် ဖြစ်ပါသည်။

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၆ နှစ် မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံး စရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | ကျပ်(သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၅,၂၀၁.၃၁ |
| (ခ) | အသုံးစရိတ် | - | ၄,၅၄၅.၇၀ |
| (ဂ) | အသားတင်အမြတ် | - | ၆၅၅.၆၁ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ၆ နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၂၂၀.၇၄ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ်၂၆၀.၀၇ သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၁၆ နှစ် ၄ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုး အမြတ်ပြန်ပေါ်နှုန်း IRR မှာ ၁၂.၆၅% ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ တစ်ဘက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရှမ်းပြည်နယ် အစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) အဆိုပြုလုပ်ငန်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် မူဆယ်မြို့တွင် နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းနှင့် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိပါကြောင်းနှင့် ကျေးရွာများ ဖွံ့ဖြိုးတိုးတက်ရေးအတွက် လျှပ်စစ်ဓာတ်အား လိုအပ်ချက်ကို ဖြည့်ဆည်းပေးနိုင်မည့် လုပ်ငန်းဖြစ်သောကြောင့် အကျိုးပြုစီမံကိန်း လုပ်ငန်းတစ်ခုဖြစ်ကြောင်း။

(၂) စီမံကိန်းလုပ်ငန်း ပြီးစီးသွားပါက လျှပ်စစ်ဓာတ်အား လိုအပ်ချက်ကို တစ်ဖက် တစ်လမ်းမှ ဖြည့်ဆည်းပေးနိုင်မည် ဖြစ်သောကြောင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေသော စီမံကိန်းလုပ်ငန်းတစ်ခုဖြစ်ပါကြောင်း။

(၃) စီမံကိန်းအကောင်အထည်ဖော်မည့် ကုမ္ပဏီမှ တာဝန်ရှိသူများနှင့် တောင်သူများ ဆက်လက်ညှိနှိုင်းလုပ်ဆောင်လျက်ရှိကြောင်းနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု အသင့်တော်ဆုံးဖြစ်အောင် ကုမ္ပဏီမှ စီမံဆောင်ရွက်လျက်ရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ မှန်ကန်မှုရှိကြောင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခွင့်ပြုပါက ခွင့်ပြုမြေနေရာအတွင်း၌သာ စီမံကိန်းတည်ဆောက်လုပ်ကိုင်ရေးကို သက်ဆိုင်ရာဌာနများ၊ လယ်ယာမြေစီမံခန့်ခွဲမှုအဆင့်ဆင့်တို့မှလည်း ထပ်မံကွင်းဆင်း စိစစ်ကြပ်မတ် ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း။

(၅) ကုမ္ပဏီမှ အကောင်အထည်ဖော် ဆောင်ရွက်မည့် နမ့်ပေါ်ရေအား လျှပ်စစ်စီမံကိန်းကိုခွင့်ပြုပေးခြင်းဖြင့် ဒေသအတွင်းလိုအပ်ချက်ရှိနေသော လျှပ်စစ်ဓာတ်အားကို ပိုမိုဖြည့်ဆည်းပေးနိုင်ခြင်း၊ ဒေသခံပြည်သူများ အလုပ်အကိုင် အခွင့်အလမ်း ရရှိစေနိုင်ခြင်း၊ တစ်ဖက်နိုင်ငံမှ ဈေးနှုန်းကြီးမြင့်စွာ ဝယ်ယူသုံးစွဲနေကြသော ကျေးရွာများအတွက် ပြည်တွင်း လျှပ်စစ်ဓာတ်အား ပြောင်းလဲသုံးစွဲခြင်းဖြင့် မိမိနိုင်ငံအတွင်း ငွေကြေးကို ခိုင်မာလာစေခြင်း၊ ဒေသအတွင်း စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု အထောက်အကူပြု စေခြင်းတို့ကြောင့် အမှန်တကယ် အကောင်အထည်ဖော် ဆောင်ရွက်သင့်သည့် စီမံကိန်းတစ်ရပ်ဖြစ်ပါကြောင်းနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုမည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

(ခ) **ဆောက်လုပ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) တံတားပြန်လည် နေရာချထားတည်ဆောက်မည့်အပိုင်းနှင့်စပ်လျဉ်း၍ Concept Plan အရ ဆည်ရေအမြင့် လွတ်စေရန် ရွေးသည့်နေရာသည် မူလအသုံးပြုသည့် လမ်း ထက် အတက်အဆင်းလမ်းများ လျော့သွားစေခြင်း၊ တံတားအလျားအလိုက် အစောင်း ၄% သာရှိခြင်း၊ Concept Plan အရ Prestressed Concrete

small box Girder design ဖြစ်၍ အခါ အား လျော့စွာ ဆည်ရေမြင့်လာပါက တံတားအရည်အသွေး ထိခိုက်မှု မရှိနိုင်ခြင်း၊ လက်ရှိရွေးချယ်ထားသည့် တံတား အမြင့်သည် ဆည်ရေလျှာထား အမြင့်ဆုံးအမှတ်အထက်ပေ (၂၀) ခန့် ကင်းလွတ် မှုရှိသည့်အတွက် လုံလောက်သော အမြင့်ရှိပါကြောင်း။

(၂) ယခုအခါ BOT Company မှ (၄)လမ်းသွား လမ်း/တံတားများ တိုးချဲ့ဆောင် ရွက်နေပြီဖြစ်ရာ အဆိုပြု Concept Plan မှာ (၂)လမ်းသွားအဆင့်ဖြစ်နေ၍ (၄)လမ်းသွားအဖြစ် ပြန်လည်အဆိုပြုရေးဆွဲတင်ပြရန် လိုအပ်ပါကြောင်း၊ Company မှ အသေးစိတ် တံတားပုံစံ ပြုစုတင်ပြလာချိန်တွင် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ တံတားဦးစီးဌာနမှ စိစစ်အတည်ပြုပေးမည် ဖြစ်ပါကြောင်း။

(၃) အဆိုပြုတံတား Pier များ အမြင့်ပြန်သုံးသပ်ရန်အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ တံတားဦးစီးဌာန၊ အင်ဂျင်နီယာများမှ ကွင်းဆင်း စစ်ဆေးမှုအချိန် (၂) ပတ်ခန့်ကြာမြင့်မည်ဖြစ်ပြီး၊ လက်ရှိအချိန်တွင် လုံခြုံရေး အခြေအနေအရ ဆောင်ရွက်နိုင်ခြင်း မရှိသေးပါသဖြင့် Alternative design ပုံစံ(၂)မျိုး ဖြစ်သည့် (Steel Arch Bridge type and Open spandel Continuous Prestessed Concrete Bridge types) ကို အဆိုပြုတင်ပြပါသည်။ ၎င်း (၂) မျိုးမှာ တည်ဆောက်မှု ကုန်ကျစရိတ်နှင့် တည်ဆောက်ချိန်ပိုမိုနိုင်ပြီး၊ မူလ Concept Plan ပါ တံတားပုံစံမှာ တည်ဆောက်ရာတွင် လွယ်ကူ နိုင်ပါကြောင်း။

(၄) လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး နမ့်ပေါ်ချောင်းတံတားသည် ရေအား လျှပ်စစ် စက်ရုံတည်ဆောက်မည်ဆိုပါက ရေမြုပ်ဧရိယာအတွင်း ပါဝင်သွားမည် ဖြစ်ပါသဖြင့် လမ်းနှင့် တံတားကို ကြိုတင်တည်ဆောက်ပေးပါက ဆောင်ရွက်ရန် သဘောတူနိုင်ပါကြောင်း၊ တံတားမြှင့်သည့်အခါ လမ်းအူကြောင်း အနည်းငယ် ပြောင်းလဲနိုင်၍ လမ်းနယ်နှင့် တံတားနယ်အပြည့်ရရှိရေးကို ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီမှ တာဝန်ယူ ဆောင်ရွက်ပေးရန် လိုအပ်မည်ဖြစ်ပြီး လုပ်ငန်း မဆောင်ရွက်မီ တံတားဒီဇိုင်းနှင့် လမ်းဒီဇိုင်းကို ဆောက်လုပ်ရေးဝန်ကြီးဌာန၏ အတည်ပြုချက်ရယူရန်နှင့် လုပ်ငန်းဆောင်ရွက်သည့်အခါ ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ ကြီးကြပ်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း။

(၅) လမ်းနှင့် တံတားများအား ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ ဆောင်ရွက်ပါက ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်မှ ရေအား လျှပ်စစ် စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်း လုပ် ငန်းဆောင်ရွက်ခြင်းကို ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထား ပါသည်။

(ဂ) **ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

သံကူကွန်ကရစ်တံတား ပြန်လည်တည်ဆောက်မည့် နမ့်ပေါ်ချောင်းသည် တောင်ကျချောင်းဖြစ်သည့်အတွက် တိုင်ခြေရေတိုက်စားမှုအားခံနိုင်ရန် တံတားတိုင် များအား Safe Scour Depth ထက် ကျော်လွန်ထားရှိသင့်ကြောင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည်။

(ဃ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန**

အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ကုမ္ပဏီမှ ပေးပို့တင်ပြခဲ့သည့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုဆန်းစစ်ခြင်း (ESIA) ဆောင်ရွက်ရန်အတွက် နယ်ပယ် တိုင်းတာသတ်မှတ်ခြင်းအစီရင်ခံစာ (Scoping Report) အပေါ် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ ကနဦးသဘောထားမှတ်ချက် ပြန်ကြားစာပူးတွဲတင်ပြထားပါသည်။ အဆိုပါစီမံကိန်းအတွက် ESIA အစီရင်ခံစာအား Myanmar Sustainable Development Engineering Services Co., Ltd. မှ ရေးဆွဲတင်ပြထားပြီး EIA အစီရင်ခံစာနှင့်စပ်လျဉ်းသည့် Scoping report အားပေးပို့တင်ပြထားကြောင်းနှင့် ESIA အစီရင်ခံစာ စိစစ်သုံးသပ်ရေးအဖွဲ့၏ လမ်းညွှန်ချက်နှင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ မူဝါဒ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၁။ ငွေကြေးအထောက်အထားအဖြစ် ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီလီမိတက်သည် ကမ္ဘောဇဘဏ်၌ ၃၁-၃-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၆၆,၉၉၄,၅၆၂ ရှိကြောင်းနှင့် မြန်မာ့စီးပွားရေးဘဏ် (မူဆယ်ဘဏ်ခွဲ)၌ ၃၁-၃-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၂၆၃,၀၄၉,၁၅၂ ရှိကြောင်း အထောက်အထားများ တင်ပြထားပါသည်။

၁၂။ ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီလီမိတက်မှ လုပ်ငန်းခွင်သာယာရေးနှင့် သက်သာ ချောင်ချိရေး စီမံချက်၊ မီးဘေး ကြိုတင်ကာကွယ်မှုစီမံချက်၊ လျှပ်စစ်ဓာတ်အားသုံးစွဲမှုအစီအစဉ်၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရေးအတွက် ဆောင်ရွက်ထားရှိမှု အခြေအနေ၊ ရေဆိုးများနှင့် အမှိုက်များကို စနစ်တကျ စွန့်ပစ်ရန် စီစဉ်ထားရှိကြောင်း ကတိဝန်ခံချက်များပူးတွဲတင်ပြထားပါသည်။ ဝန်ထမ်းများ ကျန်းမာရေး၊လုပ်ငန်းခွင်လုံခြုံရေးနှင့်လူမှုဖူလုံရေးအစီအစဉ်များအားရေးဆွဲတင်ပြထားပြီး ဝန်ထမ်း သက်သာ ချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်မှု အစီအစဉ်နှင့် လူမှုရပ်ရွာ အကျိုးပြုမှု အစီအစဉ်အဖြစ် Corporate Social Responsibility အဖြစ် လုပ်ငန်း၏ နှစ်စဉ် အသားတင် အမြတ်ငွေ၏ ၁ % ကို သုံးစွဲမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့်ကို ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၅ ရက်နေ့ရက်စွဲဖြင့်တင်ပြခဲ့ပြီး ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၁၂ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၄၆/၂၀၁၆ အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည့် အများပိုင် ကုမ္ပဏီဖြစ်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ထံမှ စီမံကိန်းရင်းနှီးမြှုပ်နှံဖော်ဆောင် ခွင့်ပြုချက် ရရှိပြီးသည်နှင့် တစ်ပြိုင်နက် ချေးငွေစာချုပ်(မူကြမ်း)အား ညွှန်ကြားချက်နှင့်အညီ ပြန်လည် ပြုစုတင်ပြပေးသွားမည်ဖြစ်ကြောင်း၊ အဆိုပါ ပြည်ပချေးငွေအတွက် နိုင်ငံခြားဘဏ် သို့မဟုတ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု အဖွဲ့အစည်း တစ်ခုခုမှ ချေးငွေရယူရန် ပြင်ဆင်ထားကြောင်း တင်ပြထားပါသည်။ ပြည်ပချေးငွေ အမေရိကန်ဒေါ်လာ ၁၄.၃၀၈ သန်း အား တစ်နှစ်လျှင် အတိုးနှုန်း ၄.၅% ဖြင့် ၁၀ နှစ် အတွင်း ပေးဆပ်မည်ဖြစ်ပြီး ပြည်တွင်းချေးငွေ ကျပ် ၁၆၇၈၅.၇၇သန်း အား တစ်နှစ်လျှင် အတိုးနှုန်း ၁၃% ဖြင့် ၁၀ နှစ် အတွင်း ပေးဆပ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ခ) ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီလီမိတက်နှင့် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ် ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းတို့ နမ့်ပေါ်ရေအား လျှပ်စစ်ဓာတ်အားပေးစက်ရုံ လျှပ်စစ်ဓာတ်အား ဝယ်ယူရေး သဘောတူ စာချုပ်အား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီလက်မှတ်ရေးထိုးချုပ်ဆိုရမည် ဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ အရ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆိုပြုချက် တင်ပြလာခြင်းဖြစ်ပါသည်။

(ဃ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဂရိတ်ဟော်ခမ်း အများပိုင် ကုမ္ပဏီလီမိတက်မှ ရှမ်းပြည် နယ်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ စယ်လန့်ကျေးရွာနှင့် မန့်မိုင်ကျေးရွာအုပ်စုရှိ မြေ ၁၇၉.၀၀ ဧကတွင် B.O.T စနစ်ဖြင့် (၂၀) မဂ္ဂါဝပ် နမ့်ပေါ်ရေအား လျှပ်စစ်

စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီး ဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

နောက်ဆက်တွဲ-က

စာအမှတ်၊ ၉၀၅ / ၇ - ၂၁၆ / အစရ(ရှမ်း)
ရက် စွဲ ၊ ၂၀၁၇ခုနှစ်၊ ဇန်နဝါရီလ ၂၀ ရက်

MY-0059
30/1/17

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

P.150
30.1.17

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆.၁၂.၂၀၁၆ရက်စွဲပါ စာအမှတ်၊ မရက-၅(လ)/မ-၀၀၂/၂၀၁၆(၅၇၀)

၁။ ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်သည် မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ စယ်လန့်ကျေးရွာနှင့် မန့်မိုင်ကျေးရွာအုပ်စုရှိ နမ့်ပေါ်ချောင်းပေါ်နှင့် မြေ(၁၇၉)ဧကတွင် BOT စနစ်ဖြင့် (၂၀)မဂ္ဂါဝပ်ရေအားလျှပ်စစ်စက်ရုံတည်ဆောက်၍လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဦးစိုင်းအုန်းမြင့် (၁၃/မဆတ(နိုင်) ၀၁၂၉၀၈)မှ အဆိုပြု တင်ပြလာခြင်းအပေါ် အောက်ပါအချက်များနှင့် ပတ်သက်၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ။

(ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/မဖြစ်။

(ဂ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ။

(ဃ) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာဟုတ်/မဟုတ်။

(င) ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သုံးသပ်အကြံပြုချက်။

၂။ အပိုဒ်(၁)ပါအချက်များနှင့်ပတ်သက်၍ မူဆယ်ခရိုင်စီမံခန့်ခွဲမှုကော်မတီမှ အောက်ပါအတိုင်းစိစစ်တင်ပြလာပါသည်-

(က) ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်က အကောင်အထည်ဖော် ဆောင်ရွက်မည့်(၂၀)မဂ္ဂါဝပ် ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် မူဆယ်မြို့တွင် နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းနှင့် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိပါကြောင်းနှင့်

ကျေးရွာများဖွံ့ဖြိုးတိုးတက်ရေးအတွက် လျှပ်စစ်ဓါတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းပေးနိုင်မည့် လုပ်ငန်းဖြစ်သောကြောင့် အကျိုးပြုစီမံကိန်းလုပ်ငန်းတစ်ခုဖြစ်ကြောင်း၊

(ခ) စီမံကိန်းလုပ်ငန်းပြီးစီးသွားပါက လျှပ်စစ်ဓါတ်အားလိုအပ်ချက်ကို တစ်ဖက်တစ်လမ်းမှ ဖြည့်ဆည်းပေးနိုင်မည်ဖြစ်သောကြောင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေသော စီမံကိန်းလုပ်ငန်းတစ်ခုဖြစ်ပါကြောင်း၊

(ဂ) စီမံကိန်းအကောင်အထည်ဖော်မည့် ကုမ္ပဏီမှ တာဝန်ရှိသူများနှင့် တောင်သူများ ဆက်လက်ညှိနှိုင်းလုပ်ဆောင်လျှက်ရှိနေကြောင်းနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှု အသင့်တော်ဆုံးဖြစ်အောင် ကုမ္ပဏီမှစီမံဆောင်ရွက်လျှက်ရှိပါကြောင်း၊

(ဃ) လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ မှန်ကန်မှုရှိကြောင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခွင့်ပြုပါက ခွင့်ပြုမြေနေရာအတွင်း၌သာ စီမံကိန်းတည်ဆောက်လုပ်ကိုင်ရေးကို သက်ဆိုင်ရာဌာနများ၊ လယ်ယာမြေစီမံခန့်ခွဲမှုအဆင့်ဆင့်တို့မှလည်း ထပ်မံ ကွင်းဆင်းစိစစ်ကြပ်မတ်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း၊

(င) ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်မှ အကောင်အထည်ဖော်ဆောင်ရွက်မည့် နမ့်ပေါ်ရေအားလျှပ်စစ်စီမံကိန်းကို ခွင့်ပြုပေးခြင်းဖြင့် ဒေသအတွင်းလိုအပ်ချက်ရှိနေသော လျှပ်စစ်ဓါတ်အားကို ပိုမို ဖြည့်ဆည်းပေးနိုင်ခြင်း၊ ဒေသခံပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းရရှိစေနိုင်ခြင်း၊ တစ်ဖက်နိုင်ငံမှ ဈေးနှုန်းကြီးမြင့်စွာ ဝယ်ယူသုံးစွဲနေကြသော ကျေးရွာများအတွက် ပြည်တွင်း လျှပ်စစ်ဓါတ်အား ပြောင်းလဲသုံးစွဲခြင်းဖြင့် မိမိနိုင်ငံအတွင်း ငွေကြေးကို ခိုင်မာလာစေခြင်း၊ ဒေသအတွင်း စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု အထောက်အကူပြုစေခြင်းတို့ကြောင့် အမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်သင့်သည့် စီမံကိန်းတစ်ရပ်ဖြစ်ပါကြောင်း၊

၃။ သို့ဖြစ်ပါ၍ ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်သည် BOTစနစ်ဖြင့် (၂၀)မဂ္ဂါဝပ် ရေအား လျှပ်စစ်စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဦးစိုင်းအုန်းမြင့် (၁၃/မဆတ(နိုင်)၀၁၂၉၀၈)မှအဆိုပြုတင်ပြလာခြင်းကိုစွာနှင့်ပတ်သက်၍ ၁၇.၁.၂၀၁၇ ရက်တွင် ကျင်းပပြုလုပ်သည့် ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပုံမှန်အစည်းအဝေး အမှတ်စဉ် (၃-၁/၂၀၁၇) ဆုံးဖြတ်ချက် အပိုဒ်၅(ခ)အရ ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုမည်ဆိုပါက ကန့်ကွက်ရန် မရှိကြောင်း တင်ပြအပ်ပါသည်။

ပြည်နယ်ဝန်ကြီးချုပ်( ကစ )
( စိုးညွန့်လွင်၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီး )

မိတ္တူကို

ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မူဆယ်မြို့
ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
ဝန်ကြီးရုံး
နေပြည်တော်

**နောက်ဆက်တွဲ-ခ**

API_163
13.1.17

စာအမှတ်၊ ၂၁ / ဌာနခွဲ - ၂/MIC/၂၀၁၇ (စီ ၃၄)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ(၁၆)ရက်နေ့စွဲပါ စာအမှတ်၊မရက-၅(လ)/မ၀၀၂/၂၀၁၆

၁။ ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်မှ ရှမ်းပြည်နယ်(မြောက်ပိုင်း) ၊မူဆယ်ခရိုင်၊ မူဆယ်မြို့နယ် ၊ နမ့်ပေါ်ချောင်းပေါ် နှင့် မြေ(၁၇၉.၀၀)ဧကတွင် BOT စနစ်ဖြင့် (၂၀)မဂ္ဂါဝပ်ရေအားလျှပ်စစ်စက်ရုံ တည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာပါသဖြင့် တံတားပြန်လည်နေရာချထား တည်ဆောက်မည့်အပိုင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည် ။

၂။ တံတားပြန်လည်နေရာချထားတည်ဆောက်မည့် အပိုင်းနှင့်စပ်လျဉ်း၍ Concept Plan အရ ဆည်ရေအမြင့်လွတ်ရန် ရွေးသည့်နေရာသည် မူလအသုံးပြုသည့် လမ်းထက် အတက်အဆင်းလမ်းများ လျော့သွားစေခြင်း ၊ တံတားအလျားအလိုက် အစောင်း ၄% သာရှိခြင်း၊ Concept Plan အရ Prestressed Concrete small box Girder design ဖြစ်၍ အခါအားလျော်စွာ ဆည်ရေမြင့်လာပါက တံတားအရည်အသွေး ထိခိုက်မှုမရှိနိုင်ခြင်း ၊ လက်ရှိရွေးချယ်ထားသည့် တံတားအမြင့်သည် ဆည်ရေ လျှာထားအမြင့်ဆုံးအမှတ် အထက်ပေ (၂၀) ခန့် ကင်းလွတ်မှုရှိသည့်အတွက် လုံလောက်သောအမြင့် ရှိပါသည်။

၃။ ယခုအခါ BOT Company မှ (၄)လမ်းသွား လမ်း/ တံတားများ တိုးချဲ့ ဆောင်ရွက်နေပြီဖြစ်ရာ အဆိုပြု Concept Plan မှာ (၂)လမ်းသွားအဆင့် ဖြစ်နေ၍ (၄)လမ်းသွားအဖြစ် ပြန်လည်အဆိုပြုရေးဆွဲတင်ပြရန် လိုအပ်ပါသည်။ Company မှ အသေးစိတ် တံတားပုံစံပြုစုတင်ပြလာချိန်တွင် ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ တံတားဦးစီးဌာနမှ စိစစ်အတည်ပြုပေးမည် ဖြစ်ပါသည်။

၄။ အဆိုပြုတံတား Pier များ အမြင့် ပြန်သုံးသပ်ရန်အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ တံတားဦးစီးဌာန၊ အင်ဂျင်နီယာများမှ ကွင်းဆင်းစစ်ဆေးမှုအချိန် (၂)ပတ်ခန့် ကြာမြင့်မည်ဖြစ်ပြီး၊ လက်ရှိအချိန်တွင် လုံခြုံရေးအခြေအနေအရ ဆောင်ရွက်နိုင်ခြင်း မရှိသေးပါသဖြင့် Alternative design ပုံစံ (၂) မျိုးဖြစ်သည့် ( Steel Arch Bridge type and Open spandel Continuous Prestressed Concrete Bridge types) ကို အဆိုပြု တင်ပြပါသည်။ ၎င်း(၂)မျိုးမှာ တည်ဆောက်မှုကုန်ကျစရိတ် နှင့် တည်ဆောက်ချိန် ပိုမိုနိုင်ပြီး၊ မူလ Concept Plan ပါ တံတားပုံစံမှာ တည်ဆောက်ရာတွင် လွယ်ကူနိုင်ပါသည်။

၅။ လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး နမ့်ပေါ်ချောင်းတံတားသည် ရေအားလျှပ်စစ် စက်ရုံတည်ဆောက်မည်ဆိုပါက ရေမြုပ်ဧရိယာအတွင်း ပါဝင်သွားမည် ဖြစ်ပါသဖြင့် လမ်းနှင့် တံတားကို ကြိုတင်တည်ဆောက်ပေးပါက ဆောင်ရွက်ရန် သဘောတူနိုင်ပါကြောင်း ၊ တံတား မြှင့်သည့်အခါ လမ်းအူကြောင်း အနည်းငယ်ပြောင်းလဲနိုင်၍ လမ်းနယ် နှင့် တံတားနယ် အပြည့်ရရှိ ရေးကို ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီမှ တာဝန်ယူ ဆောင်ရွက်ပေးရန် လိုအပ်မည်ဖြစ်ပြီး လုပ်ငန်းမဆောင်ရွက်မီ တံတားဒီဇိုင်းနှင့် လမ်းဒီဇိုင်းကို ဆောက်လုပ်ရေးဝန်ကြီးဌာန၏ အတည်ပြု ချက်ရယူရန်နှင့် လုပ်ငန်းဆောင်ရွက်သည့်အခါ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ကြီးကြပ် ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည် ။

၆။ သို့ဖြစ်ပါ၍ လမ်းနှင့်တံတားများအား ဆောက်လုပ်ရေးဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်ပါက ဂရိတ်ဟော်ခမ်းအများပိုင်ကုမ္ပဏီလီမိတက်မှ ရေအားလျှပ်စစ် စက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခြင်းကို ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည် ။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကျော်လင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ လမ်းဦးစီးဌာန ။
- ညွှန်ကြားရေးမှူးချုပ်၊ တံတားဦးစီးဌာန ။




myu_၁၄၈၇
၃၀၊၁၂၊၁၆

နောက်ဆက်တွဲ-ဂ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ပဆ-(၃)/(သဘောထား-DWIR)/၂၀၁၆(၁၈၉)

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၂၆ ရက်

**သို့**



**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆.၁၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက- ၅ (လ)/ မ-၀၀၂ / ၂၀၁၆ (၅၆၈)

၁။ ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်မှ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ စယ်လန့်ကျေးရွာနှင့် မန့်မိုင်ကျေးရွာအုပ်စုရှိ နမ့်ပေါ်ချောင်းပေါ်နှင့် မြေ(၁၇၉)ဧကတွင် B.O.T စနစ်ဖြင့်(၂၀)မဂ္ဂါဝပ် ရေအားလျှပ်စစ်စက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြလာသည့် ကိစ္စနှင့်စပ်လျဉ်း၍ နမ့်ပေါ်ရေအား လျှပ်စစ်စီမံကိန်း၏ တမံအထက်ပိုင်းတွင် တည်ရှိသော အထက်တာလုံ သံကူကွန်ကရစ်တံတားသည် တမံရေလွှမ်းဧရိယာအတွင်း ကျရောက်လျက်ရှိပါသဖြင့် တံတားနေရာ ပြန်လည်ချထားတည်ဆောက်မည့် အပိုင်းနှင့်ပတ်သက်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ သို့ဖြစ်ပါ၍ အထက်တာလုံ သံကူကွန်ကရစ် တံတားနေရာ ပြန်လည် တည်ဆောက်မည့် နမ့်ပေါ်ချောင်းသည် တောင်ကျချောင်းဖြစ်သည့်အတွက် တိုင်ခြေရေတိုက်စားမှုအား ခံနိုင်ရန် တံတားတိုင်များအား Safe Scour Depth ထက် ကျော်လွန်ထားရှိသင့်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို -

- ရေအရင်းအမြစ်နှင့်မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန
- ဂရိတ်ဟော်ခမ်း အများပိုင်ကုမ္ပဏီလီမိတက်